ကန့်သတ်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက - ၁/န - ၈၅၆/၂၀၁၃ (၂၇၉၀၀)
ရက်စွဲ၊ ၂၀၁၃ ခုနှစ်၊ အောက်တိုဘာလ ၁၄ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Japfa Comfeed Myanmar Pte. Ltd. တည်ထောင်၍ တိရစ္ဆာန်မွေးမြူရေးနှင့် တိရစ္ဆာန်အစာ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြလာ ခြင်းကိစ္စ**

၁။ မြန်မာနိုင်ငံ Best Livestock Ltd. မှ ၁၅% နှင့် စင်ကာပူနိုင်ငံ Japfa Myanmar JV Pte., Ltd.မှ ၈၅% အစုရှယ်ယာများ ထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Japfa Comfeed Myanmar Pte., Ltd. တည်ထောင်၍ ရန်ကုန်တိုင်းဒေသကြီး၊ မှော်ဘီမြို့နယ်၊ ကုလားကုန်းကျေးရွာ၊ အကွက်အမှတ် (၆၃၉) ရှိ မြေ ၃၅.၁၁ ဧကတွင် တိရစ္ဆာန်မွေးမြူရေး နှင့် မှော်ဘီမြို့နယ်၊ မြောင်းတကာ စက်မှုဇုန်၊ မြေကွက်အမှတ် (၁၈၅-၁၈၈) (၂၀၁-၂၀၄)ရှိ စုစုပေါင်း မြေဧရိယာ ၁၄.၆၀ ဧက တွင် တိရစ္ဆာန်အစာ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုတင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ Japfa Myanmar JV Pte. Ltd. နှင့် Best Livestock Limited တို့၏ ဖက်စပ်သဘောတူစာချုပ်(မူကြမ်း)၊ မြေနေရာများနှင့်ပတ်သက်၍ မြေပိုင်ရှင် Best Livestock Limited နှင့် ဖက်စပ်ကုမ္ပဏီတို့၏ မြေငှားစာချုပ်(မူကြမ်း)များကို တည်နေရာပြမြေပုံများနှင့်တင်ပြထားပါသည်။ မြေအထောက်အထားအဖြစ် မှော်ဘီမြို့နယ်၊ ကုလားကုန်း ကျေးရွာရှိမြေအား Best Livestock Limited ကုမ္ပဏီအမည်ဖြင့် အသုံးပြုခွင့် ရရှိထားသည့် လန-၃၉ နှင့် မြောင်းတကာ စက်မှုဇုန်ရှိမြေအား Best Livestock Limited ကုမ္ပဏီအမည်ဖြင့် မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာနမှ ခွင့်ပြုစာအား တင်ပြထားပါသည်။

၃။ လုပ်ငန်းဆောင်ရွက်မည့်မြေဧရိယာများဖြစ်သည့် မှော်ဘီမြို့နယ်၊ ကုလားကုန်းကျေးရွာရှိ မြေဧရိယာ ၃၅.၁၁ ဧက (၁၄၂၀၉၀.၁၇ စတုရန်းမီတာ) အတွက် တစ်နှစ်လျှင် တစ်စတုရန်း မီတာ US$ ၁ နှုန်းဖြင့် တစ်နှစ်ငှားရမ်းခ US$ ၁၄၂၀၉၀.၁၇ ကိုလည်းကောင်း၊ မှော်ဘီမြို့နယ်၊ မြောင်းတကာ စက်မှုဇုန်ရှိ မြေဧရိယာ ၁၄.၆၀ ဧက (၅၉၀၈၆.၂ စတုရန်းမီတာ) အတွက် တစ်နှစ်လျှင် တစ်စတုရန်းမီတာ US$ ၃ နှုန်းဖြင့် တစ်နှစ်ငှားရမ်းခ US$ ၁၇၇၂၅၈.၆ ကို လည်းကောင်း ပေးချေမည် ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်း၏ သက်တမ်းကာလမှာ ကနဦး ၃၀နှစ် နှင့် နောက်ထပ် ၁၅နှစ် (၂) ကြိမ် သက်တမ်းတိုးမြှင့်ခွင့်ဖြစ်ပြီး တည်ဆောက်ရေး ကာလမှာ (၁)နှစ် ဖြစ်ပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်း ရင်းနှီးမြှုပ်နှံမှုမှာ US$ ၁၁.၅၀၀သန်း ဖြစ်ပြီး နိုင်ငံခြားကုမ္ပဏီမှ ငွေသား US$ ၉.၇၇၅ သန်းနှင့် မြန်မာကုမ္ပဏီမှ စက်နှင့်စက်ပစ္စည်း US$ ၀.၁၄၅ သန်း နှင့် စက်ရုံအဆောက်အဦများ US$ ၁.၅၈၀ သန်း တို့ပါဝင်ပါသည်။

၆။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်း ဝန်ထမ်းဦးရေ ၁၁၆၀ ဦး နှင့် ပြည်ပမှ ကျွမ်းကျင် ဝန်ထမ်းဦးရေ ၁၃ ဦး စုစုပေါင်း ၁၁၇၃ ဦး ခန့်ထားမည် ဖြစ်ပြီး ပြည်တွင်းဝန်ထမ်း၏ အနိမ့်ဆုံး လစာမှာ ကျပ် ၈၀,၀၀၀ နှင့် အမြင့်ဆုံး လစာမှာ ကျပ် ၄၀၀,၀၀၀ ဖြစ်ပြီး ပြည်ပဝန်ထမ်း၏ အနိမ့်ဆုံး လစာမှာ US$ ၃,၀၀၀ နှင့် အမြင့်ဆုံး လစာမှာ US$ ၇,၀၀၀ ဖြစ်ပါသည်။

၇။ အဆိုပြု လုပ်ငန်းသည် တိရစ္ဆာန်မွေးမြူရေးနှင့် တိရစ္ဆာန်အစာ ထုတ်လုပ်ခြင်းလုပ်ငန်းဖြစ်ပြီး ပြည်တွင်း၌ ၁၀၀% ရောင်းချမည် ဖြစ်ပါသည်။ ကုမ္ပဏီ၏နှစ်စဉ် ပုံမှန်ထုတ်လုပ်မှု နှင့် ရောင်းဈေးနှုန်း (ဆဋ္ဌမနှစ်) မှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | ပြင်ပပေါက်ဈေးဖြင့် ရောင်းချခြင်း | မွေးဘက်ခြံများသို့ ရောင်းချခြင်း |
|---|---|---|---|
| (က) | Feed Mill (ထုတ်လုပ်မှု အရေအတွက်) (MT) | ၈၇,၀၈၂ | ၁၄,၇၇၇ |
| (ခ) | Feed Mill (ရောင်းဈေးနှုန်း) (Kyat/Kg) | ၆၁၀.၄၅ | ၅၇၀.၀၆ |
| (ဂ) | Breeder Farm, Hatcher and Contract Farm (ထုတ်လုပ်မှု အရေအတွက်) (Kg) | ၁၀,၇၃၉၆၆၄ | ၁,၅၀၉,၂၀၉ |
| (ဃ) | Breeder Farm, Hatcher and Contract Farm (ရောင်းဈေးနှုန်း) (Kyat/Kg) | ၅၃၁.၄၇ | ၅၀၀.၈၃ |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (ဆဋ္ဌမနှစ်)တွင် ကုမ္ပဏီမှရရှိမည့် အကျိုးအမြတ်မှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | ကျပ် ( သန်း ) |
|---|---|---|
| (က) | ဝင်ငွေ | ၇၆,၉၇၉ |
| (ခ) | အသုံးစရိတ် | ၇၅,၆၃၇ |
| (ဂ) | အသားတင်အမြတ် | ၁,၃၄၂ |

၉။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ် ၄၄၈ သန်း ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေ ကာလ မှာ ၇နှစ် ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ ၁၁.၁၀% ဖြစ်ပါသည်။ တစ်ဒေါ်လာလျှင် ကျပ် ၈၇၀ နှုန်းဖြင့် တွက်ချက်ထားပါသည်။

၁၀။ အဆိုပြုလုပ်ငန်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားလာပါသည်-

(က)**ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့**မှ ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် နေရာသည် နောင် ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်း မရှိပါကြောင်း၊ အဆိုပြုလုပ်ငန်းလည်ပတ်လုပ်ကိုင်ပါက ပြည်တွင်း လုပ်သားအင်အား (၁၁၆၀)ဦး အလုပ်အကိုင်ရရှိမည် ဖြစ်သောကြောင့် မြို့နယ်ဒေသ အလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုး

တိုးတက်မှုအတွက် အထောက်အကူ ဖြစ်စေပါကြောင်း၊ အဆိုပြု လုပ်ငန်း လုပ်ကိုင်ရန်အတွက် ကုလားကုန်းကျေးရွာအနီး မြေ (၃၅.၁၁) ဧကအား (1$/Sqr/Yr) နှုန်းဖြင့်လည်းကောင်း ၊ မြောင်းတကာစက်မှုဇုန်ရှိ မြေ (၁၄.၆၁) ဧကအား (3$/Sqr/Yr) နှုန်းဖြင့် (၂၅)နှစ် ငှားရမ်းလုပ်ကိုင်မည်ဖြစ်ပြီး လုပ်ငန်း လည်ပတ်လုပ်ကိုင်ပါက အသားတိုးကြက်မွေးမြူရေး၊ မွေးဘက်လုပ်ငန်း အကျိုးတူ ဆောင်ရွက်ရာတွင် ဒေသခံတောင်သူများ၊ ဌာနဆိုင်ရာများနှင့် တပ်ရင်းတပ်ဖွဲ့ဝင်များအား မွေးဘက်မွေးမြူခ တစ်နှစ်လျှင် ကျပ်သန်းပေါင်း (၃၆၀၀)ခန့် ဝင်ငွေရရှိနိုင်သဖြင့် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိပါကြောင်း၊ အဆိုပြုလုပ်ငန်းမှာ သဘာဝ ပတ်ဝန်းကျင်အား ထိခိုက်နိုင်မှု မရှိ စေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါကြောင်း၊ ရန်ကုန်တိုင်းဒေသကြီး အစိုးရ အဖွဲ့၏ (၃၄/၂၀၁၃) (၂၂-၈-၂၀၁၃) အစည်းအဝေးဆုံးဖြတ်ချက်အရ Japfa Comfeed Myanmar Pte., Ltd.၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-က**

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနမှ** အဆိုပြုလွှာပါ လုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်မှုများကို ရှောင်ရှားနိုင်ရန်အတွက် လုပ်ငန်းလည်ပတ်ခြင်း နှင့် ထုတ်လုပ်ခြင်း အဆင့်ဆင့်တို့၏ စီမံကိန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံ စွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံး ဖြစ်စေမည့် အစီအစဉ်များရေးဆွဲပြီး လိုက်နာဆောင်ရွက်ရန်၊ အဆိုပြု စီမံကိန်းလုပ်ငန်းကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မရှိစေရေးနှင့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု အနည်းဆုံး ဖြစ်စေရေးတို့အတွက် ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impass Assessment - EIA) လုပ်ငန်းကို ကုမ္ပဏီနှင့် ပါဝင်ပတ်သက်ခြင်းမရှိသည့် ဘာသာရပ်ဆိုင်ရာ ကျွမ်းကျင်ပညာရှင်များ ပါဝင်သော တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းဖြင့် ဆောင်ရွက်၍ အစီရင်ခံစာ တင်ပြပြီးမှ စိစစ်ခွင့်ပြုပါရန်၊ အဆိုပါ ဆန်းစစ်တွေ့ရှိချက်များကို အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှု မဖြစ်စေရန် (သို့မဟုတ်) အနည်းဆုံးဖြစ်စေရန်အတွက် ဆောင်ရွက်မည့် အစီအမံများပါဝင်သည့် ပတ်ဝန်းကျင်ဆိုင်ရာစီမံခန့်ခွဲမှု အစီအစဉ်( Environmental Management Plan- EMP) ရေးဆွဲတင်ပြရန်နှင့် အစီအစဉ်အတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်၊ လုပ်ငန်းခွင် လေကောင်းလေသန့် ရရှိရေး၊ ပတ်ဝန်းကျင် သန့်ရှင်းကောင်းမွန်ရေးအတွက် သင့်တော်မည့် ရေစီးရေလာစနစ် ထားရှိရန်နှင့် စက်ရုံပတ်ဝန်းကျင် စိမ်းလန်းစိုပြည်ရေးအတွက် သစ်ပင်များနှင့် ပန်းအလှပင်များ စိုက်ပျိုးထားရှိရန်၊ ဒေသခံ ပြည်သူများနှင့် ဆွေးနွေးညှိနှိုင်း တိုင်ပင်မှုများ၊ သဘောထားဆန္ဒရယူခြင်းများ ဆောင်ရွက်ရန်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၊ သက်ဆိုင်ရာဝန်ကြီးဌာန အသီးသီးတို့မှ ထုတ်ပြန်ထားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ မူဝါဒ၊ ဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်းစည်းကမ်းနှင့် ညွှန်ကြားချက်များကို တိကျစွာ လိုက်နာဆောင်ရွက်သွားရန်သဘောထားမှတ်ချက်ပြန်ကြားလာပါသည်။ **ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏ သဘောထား ပြန်ကြားချက်နှင့်အညီ**

ကုမ္ပဏီမှ လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း ကုမ္ပဏီမှ ကတိဝန်ခံချက်နှင့် Myanmar Livestock Development Research Team (MLRD) မှ ရေးဆွဲထားသည့် EMP Report တင်ပြလာပါသဖြင့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနသို့ ပေးပို့တင်ပြ ထားပါသည်။ နောက်ဆက်တွဲ-ခ

(ဂ) မွေးမြူရေးနှင့် ရေလုပ်ငန်းဝန်ကြီးဌာနမှ ဒေသဖွံ့ဖြိုးတိုးတက်ရေးနှင့် ဒေသခံ ပြည်သူများ အတွက် အလုပ်အကိုင်အခွင့်အလမ်းများ ရရှိမည်ဖြစ်ပြီး ခေတ်မီ နည်းပညာများ တိုးပွား ရရှိမည်ဖြစ်ပါကြောင်း၊ တိရစ္ဆာန်အစားအစာနှင့် ဆက်စပ်ပစ္စည်း ထုတ်လုပ်ခြင်းနှင့်ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခြင်းဖြင့် ရန်ကုန်တိုင်းဒေသကြီးအတွင်းတွင် မွေးမြူရေး နှင့် ရေလုပ်ငန်းများကို အထောက်အကူပြုနိုင်မည် ဖြစ်ပါကြောင်း၊ နိုင်ငံတော်အနေဖြင့် မြေငှားရမ်းခ ရရှိခြင်းဖြင့် နိုင်ငံတော်ဝင်ငွေရရှိမည် ဖြစ်ပါကြောင်း၊ (၂၉-၇-၂၀၁၃) ရက်နေ့တွင် ပြုလုပ်သော မွေးမြူရေးနှင့် ရေလုပ်ငန်းဝန်ကြီးဌာန အလုပ်အမှုဆောင် ကော်မတီ အစည်းအဝေး အမှတ်စဉ် (၂၉/၂၀၁၃)မှ Japfa Comfeed Myanmar Pte., Ltd.၏ တိရစ္ဆာန်အစာ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် အဆိုပြုတင်ပြခြင်း အပေါ် အာဆီယံနိုင်ငံများ၏ သတ်မှတ်ချက်များ နှင့်အညီ (G.M.P) စနစ်ဖြင့် ဆောင်ရွက် နိုင်ပါက မွေးမြူရေးနှင့် ရေလုပ်ငန်းဝန်ကြီးဌာနမှကန့်ကွက်ရန် မရှိပါကြောင်း သဘောထား မှတ်ချက် ပြန်ကြားလာပါသည်။ **နောက်ဆက်တွဲ-ဂ**

၁၁။ ငွေကြေးအထောက်အထားအဖြစ် Best Livestock Limited ၏ Audit Report (၂၀၁၂-၂၀၁၃) နှင့် Japfa Myanmar JV Pte., Ltd. သည် Japfa Holdings Pte., Ltd. ၏ လက်အောက်ခံ ကုမ္ပဏီတစ်ခုဖြစ်ကြောင်း တင်ပြထားပြီး Japfa Holdings Pte., Ltd. ၏ Standard Chartered Bank တွင် ၇-၅-၂၀၁၃ နေ့စွဲဖြင့် US$ ၁၃.၈၆ သိန်း စာရင်းတင်ပြထားပါသည်။ PT JAPFA Comfeed Indonesia Tbk. မှ တိရစ္ဆာန် အစားအစာ ထုတ်လုပ်ခြင်းလုပ်ငန်းအတွက် ISO 9001:2008 လက်မှတ်၊ မွေးမြူရေးနှင့် ကုသရေးဦးစီးဌာန၏ စစ်ဆေးထောက်ခံချက်ဖြင့် ဆောင်ရွက်လျက်ရှိသည့် လက်မှတ်များ၊ Chick Management Plan ၊ Health and Biosecurity Plan ၊ Housing and Environment Plan ၊ Japfa Comfeed Myanmar Pte. Ltd.သည် စင်ကာပူနိုင်ငံတွင် မှတ်ပုံတင်ထားသည့် ကုမ္ပဏီဖြစ်ကြောင်း စင်ကာပူနိုင်ငံရှိ မြန်မာနိုင်ငံသံရုံး ထောက်ခံချက် ၊ ရင်းနှီးမြှုပ်နှံသူများ၏ Passport မိတ္တူတို့ကို တင်ပြ ထားပါသည်။

၁၂။ အင်ဒိုနီးရှားနိုင်ငံရှိ မိသားစုကုမ္ပဏီဖြစ်သည့် PT Japfa Comfeed Indonesia Tbk. သည် Good Animal Husbandry Practice(GAHP)နှင့် Good Manufacturing Practice (GMP) တို့နှင့်အညီ ဆောင်ရွက်လျက်ရှိသည့် ကုမ္ပဏီ ဖြစ်ကြောင်း၊ BENEFEED နှင့် COMFEED ကုန်အမှတ် တံဆိပ် အသုံးပြုခွင့် အတွက် မြန်မာနိုင်ငံတွင် မှတ်ပုံတင်ထားသည့် အထောက်အထားများအား တင်ပြထား ပြီး မေခကုမ္ပဏီမှ အဆိုပါ ကုန်အမှတ်တံဆိပ်များဖြင့် တိရစ္ဆာန်အစားအစာများ ထုတ်လုပ်လျက် ရှိကြောင်း တင်ပြထားပါ သည်။

၁၃။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် တင်ပြထားပါသည်။

၁၄။ အဆိုပါလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ၁/၂၀၁၃ ဖြင့် ထုတ်ပြန် ထားသည့် အခြားခွင့်ပြုချက်ဖြင့် ဆောင်ရွက်ခွင့်ပြုသည့် စီးပွားရေးလုပ်ငန်း အမျိုးအစားများစာရင်းတွင် တိရစ္ဆာန်မွေးမြူဖြည့်စွက် အစားအစာများ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း (Good Manufacturing Practice (GMP) ဖြင့် ဆောင်ရွက်နိုင်သူဖြစ်ရမည်) အမျိုးအစားစာရင်းတွင် ပါဝင်ပါသည်။

၁၅။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ပုဂ္ဂလိကမြေတွင် ငှားရမ်း ဆောင်ရွက်ခွင့်ပြုရန် ကိစ္စကို ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော် ပြည်ထောင်စုအစိုးရအဖွဲ့၏ ၂၀၁၃ခုနှစ် စက်တင်ဘာလ ၄ ရက်၊ အစည်းအဝေး အမှတ်စဉ် (၂၈/၂၀၁၃)မှ သဘောတူထားပါသည်။

၁၆။ မြန်မာနိုင်ငံ Best Livestock Ltd. မှ ၁၅% နှင့် စင်ကာပူနိုင်ငံ Japfa Myanmar JV Pte Ltd.မှ ၈၅% အစုရှယ်ယာများ ထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Japfa Comfeed Myanmar Pte Ltd. တည်ထောင်၍ ရန်ကုန်တိုင်းဒေသကြီး၊ မှော်ဘီမြို့နယ်၊ ကုလားကုန်းကျေးရွာ နှင့် မှော်ဘီမြို့နယ်၊ မြောင်းတကာ စက်မှုဇုန်တို့တွင် တိရစ္ဆာန်မွေးမြူရေး နှင့် တိရစ္ဆာန်အစာထုတ်လုပ်ခြင်းလုပ်ငန်းကို ဆောင်ရွက် ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြလာခြင်းအပေါ် လမ်းညွှန်မှုခံယူအပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ အဖွဲ့ဝင်)

## ကုမ္ပဏီဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| ၁။ | Best Livestock Ltd. | (၁) U Ye Naing Wynn<br>Director / Shareholders<br>Myanmar<br>12/BaHaNa(Naing)008140 | No.390, Ground Floor, Room-2, Satmu-1 Road, Sayarsan Quarter, Bahan Township, Yangon Region, Myanmar. |
| ၂။ | Japfa Myanmar JV Pte. Ltd. | (၂) Mr. Mark Gerald Eman<br>Managing Director / Shareholders<br>Indonesia<br>PP No. Indonesia Passport No. T 869730 | Agung Raya II # 31A, Lenteng Agung, Jakata Selatan, Indonesia,12610. |
| | | (၃) Mr. Tan Yong Nang<br>Director / Shareholders<br>Singapore<br>PP No. Singapore Passport No. E 348370C | 8 Jalan Haji Alias Corona Court Singapore 268510. |

| | | | |
|---|---|---|---|
| ၁။ | ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် | - | ၀၉- ၄၃၁၈၉၈၆၁ |
| ၂။ | ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ | - | |
| ၃။ | ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး | - | ဒေါက်တာမောင်မောင်အေး |
| ၄။ | ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ | - | တိရစ္ဆာန်မွေးမြူရေး နှင့် တိရစ္ဆာန်အစာ ထုတ်လုပ်ခြင်းလုပ်ငန်း |
| ၅။ | ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ | - | - |
| ၆။ | ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ | - | - |
| ၇။ | ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် | - | - |